ကုမ္ပဏီအမည် - စီးတီးမင်း ကုမ္ပဏီလီမိတက် ( City Man Co., Ltd.)

လုပ်ငန်း - ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၂၅-၈-၂၀၁၇ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၂၂/၂၀၁၇ သို့တင်ပြခြင်း | ၄-၉-၂၀၁၇ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၁၂-၉-၂၀၁၇ | | |
| ၄ | **သဘောထားမှတ်ချက်တောင်းခံခြင်း**<br>(က)သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန<br>(ခ) ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန | <br>၈-၉-၂၀၁၇<br>၈-၉-၂၀၁၇ | <br>၁၃-၉-၂၀၁၇<br>၂၁-၉-၂၀၁၇ | |
| ၅ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၁၉-၉-၂၀၁၇ | | |
| ၆ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂၁-၉-၂၀၁၇ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း(၁၃/၂၀၁၇) MIC | ၂၅-၉-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၃၁ ရက်** | | | |

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စီးတီးမင်း ကုမ္ပဏီလီမိတက် ( City Man Co., Ltd.) ၏ ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးမြို့တော်စည်ပင်သာယာရေး ကော်မတီမှ တစ်ဆင့် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | PAT အကြိမ်နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | စီးတီးမင်း ကုမ္ပဏီ လီမိတက် ( City Man Co., Ltd.) | ပုဂ္ဂလိက ကျန်းမာရေး လုပ်ငန်း | ၂၂/၂၀၁၇<br>၄-၉-၂၀၁၇ | (က) CSR Plan တင်ပြရန်။<br>(ခ) ဆေးရုံလုပ်ငန်း အတွက် သာ မြေငှားရမ်းခနှင့် မြေငှားရမ်းခနှုန်းအား ပြန်လည်တွက်ချက် တင်ပြရန်။ | ပြင်ဆင်ပြီး<br>ပြင်ဆင်ပြီး | |

ကုမ္ပဏီအမည် - စီးတီးမင်း ကုမ္ပဏီလီမိတက် ( City Man Co., Ltd.)

အဖွဲ့အစည်းပုံသဏ္ဌာန် - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်း

တည်နေရာ - အကွက်အမှတ်(၆၂၇)၊ ၇၇ နှင့် ၇၈ လမ်းကြား၊ ၃၁ နှင့် ၃၂ လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၆,၀၀၀.၀၀ သန်း

ဝန်ဆောင်မှုပေးမည့်စနစ် - ပြည်တွင်းဝန်ဆောင်မှု ၁၀၀%

လုပ်ငန်းသက်တမ်း - ကနဦး ၁၀ နှစ်

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည် -

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း(တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၀.၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | |
| ၄ | ဝင်ငွေခွန် | ကျပ် ၂၁၈.၅၃ သန်း | ကျပ် ၁,၀၅၃.၀၁ သန်း |
| ၅ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ် (၄၈) သိန်းကျော်ပါက အခွန်ပေးရမည့်ဝန်ထမ်း (၇) ဦး |
| ၆ | မြေနှင့်အဆောက်အဦး ငှားရမ်းခရငွေ | | ကျပ် ၃၈.၄၇ သန်း |
| ၇ | CSR (၂%) | | ကျပ် ၂၉.၅၇ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၅၅ ဦး |
| | | | ပြည်တွင်းလုပ်သား (၁၅၅) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက် အကူပြုစေပါသည်။ |
| | **စုစုပေါင်း** | ကျပ် ၂၂၁.၅၃ သန်း | ကျပ် ၁,၁၂၁.၅၅ သန်း |
| | | ၁း၅ | |

## မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စီးတီးမင်း ကုမ္ပဏီလီမိတက် ( City Man Co., Ltd.) ၏ ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ တစ်ဆင့် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - စီးတီးမင်း ကုမ္ပဏီလီမိတက် ( City Man Co., Ltd.) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးတင်မောင် |
| ၃။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်း |
| ၅။ | လုပ်ငန်းနေရာ/<br><br>အဆောက်အအုံအကျယ်အဝန်း<br>မြေပိုင်ရှင်<br>ငှားရမ်းကာလ<br>ငှားရမ်းခ(နှစ်စဉ်) | - အကွက်အမှတ်(၆၂၇)၊ ၇၇ နှင့်၇၈ လမ်းကြား၊ ၃၁ နှင့် ၃၂ လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး<br>- (၆,၄၁၂.၀၁) စတုရန်းမီတာရှိ (၇) ထပ်အဆောက်အဦ<br>- မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ<br>- ကနဦး ၃၀ နှစ် သက်တမ်းတိုး (၅) နှစ် (၃) ကြိမ်<br>- တစ်စတုရန်းမီတာလျှင်(ကျပ် ၆၀၀ နှုန်း) (ကျပ် ၃,၈၄၇,၂၀၃.၃၆) |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၆,၀၀၀.၀၀ သန်း<br>**ထည့်ဝင်မည့်အမျိုးအစား** — **စုစုပေါင်း ကျပ်(သန်း)**<br>ငွေပမာဏ — ၁,၀၀၀.၀၀<br>စက်ပစ္စည်းကိရိယာတန်ဖိုးပမာဏ (ပြည်တွင်း) — ၂,၀၀၀.၀၀<br>အဆောက်အအုံဆောက်လုပ်မှု ကုန်ကျစရိတ် — ၂,၀၀၀.၀၀<br>ပရိဘောဂနှင့်လုပ်ငန်းသုံးတန်ဖိုးပမာဏ (ပြည်တွင်း) — ၁,၀၀၀.၀၀<br>**စုစုပေါင်း** — **၆,၀၀၀.၀၀** |
| ၇။ | တည်ဆောက်ရေးကာလ | - |
| ၈။ | ကုမ္ပဏီ၏ (စတုတ္ထမြောက်နှစ်)<br>ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ် | <br>ကျပ် ၁,၆၁၁.၈၄ သန်း<br>ကျပ် ၁,၂၆၀.၉၅ သန်း<br>ကျပ် ၃၅၀.၈၉ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့် (စတုတ္ထမြောက်နှစ်)<br>အကျိုးအမြတ်<br>ဝင်ငွေခွန် | <br><br><br>- ကျပ် ၈၇.၇၂ သန်း |

| | | |
|---|---|---|
| ၁၀။ | ဝန်ထမ်းအင်အား | - ပြည်တွင်း ၁၅၅ ဦး (ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံးလစာ မှာ ကျပ် ၁၈၀,၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံးလစာ မှာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပါသည်။) |
| ၁၁။ | အရင်းကြေကာလ | - ၁၄ နှစ် ၁၁ လ |
| ၁၂။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၆.၅၉ % |
| ၁၃။ | ငွေကြေးအထောက်အထား | - ငွေကြေးအထောက်အထားအဖြစ် U Tin Maung (a) Lee San Shin အမည်ဖြင့် Myanmar Apex Bank ၌ (၂၄-၄-၂၀၁၇) ရက်စွဲဖြင့် ကျပ်ငွေ ၄,၂၂,၃၉၂,၈၈၉.၀၅ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၄။ | CSR | -CSR လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ ၂ % အသုံးပြုသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၅။ | မီးဘေးကာကွယ်ထားရှိမှုအစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက် ရေးဆွဲ တင်ပြထားပါသည်။ |
| ၁၆။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၅၀၀ kVA |
| ၁၇။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ် | - ကုမ္ပဏီမှ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှုအခြေနေတင်ပြထားပါသည်။ |
| ၁၈။ | အခြားတင်ပြချက်များ | - စီးတီးမင်းကုမ္ပဏီလီမိတက်မှ ဟိုတယ်၊ပလာဇာ၊ ရုံးခန်း၊ ဈေးဆိုင်ခန်း၊ ကွန်ဒိုမီနီယံ တည်ဆောက်ခြင်း၊ ငှားရမ်းခြင်း လုပ်ငန်းအား ခွင့်ပြုမိန့်အမှတ် မနသ- ဝ၂၁/၉၆ (၂၉-၅-၉၆) ဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးထားပါသည်။<br>- မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် စီးတီးမင်းကုမ္ပဏီတို့ ချုပ်ဆိုထားသည့် တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းစာချုပ်၊ ၎င်းစာချုပ်အား ပြင်ဆင်သည့်စာချုပ်၊ မြေငှားစာချုပ်၊ ပထမအကြိမ် ပြင်ဆင်သည့် မြေငှားစာချုပ်၊ ဒုတိယအကြိမ် ပြင်ဆင် သည့် မြေငှားစာချုပ် (မူကြမ်း)၊ စီးတီးမင်းကုမ္ပဏီ ၏ ကုမ္ပဏီမှတ်ပုံတင်ကဒ်၊ MOA၊ AOA တို့ကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - စီးတီးမင်းကုမ္ပဏီ မှ အဆိုပြုလုပ်ငန်းအကျဉ်းချုပ်၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့် အချက်များ မှန်ကန်ကြောင်း ကတိဝန်ခံချက်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကို လိုက်နာမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |
| ၁၉။ | စိစစ်တင်ပြချက် | (က) စီးတီးမင်းကုမ္ပဏီလီမိတက်မှ မြေအသုံးချမှုမှု ပရီမီယံကြေး ကျပ်သိန်းပေါင်း ၃,၆၂၂ ပေးချေပြီးဖြစ်ပြီး ကျပ် သိန်းပေါင်း ၆၁၈.၁၈ သိန်းအား စည်ပင်သို့ နှစ်စဉ် ပေးဆောင်လျက်ရှိပါသည်။<br>(ခ) ပုဂ္ဂလိကကျန်းမာရေးဝန်ဆောင်မှုလုပ်ငန်းသည် ၂၀၁၇ ခုနှစ် ဧပြီလ လ ၁၀ ရက်နေ့တွင် ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန၏ အတည်ပြုချက်ရယူ ဆောင်ရွက်ရမည့် လုပ်ငန်းဖြစ်ပါသည်။<br>(ဂ) အဆိုပြုလုပ်ငန်းသည် ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် ထုတ်ပြန်သော အမိန့် ကြော်ငြာစာအမှတ် ၁၃/၂၀၁၇ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်အတွက် အကျုံးဝင် သည့် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၂၂ ရက်နေ့တွင် ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ် ၁၀/၂၀၁၇ အရ ဇုန်အမျိုးအစား သတ်မှတ်ရာတွင် ဇုန်(၃) ဖွံ့ဖြိုးမှုရှိသောဒေသတွင် ပါဝင်သဖြင့် ဝင်ငွေခွန်(၃) နှစ် ခံစားခွင့်ရှိမည်ဖြစ်ပါသည်။<br>(ဃ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်း လိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။<br>(င) အဆိုပြုလုပ်ငန်းသည် ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၈ ရက်နေ့တွင် ထုတ်ပြန် ထားသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၆(ဃ) နှင့် (ဂ) တွင် ပါဝင်ပါသဖြင့် ခွင့်ပြုမိန့် ရယူရန်လိုအပ်သည့် လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၅(အ) / ၁-၀၀၆/ ၂၀၁၇( ၄၃၃ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် စက်တင်ဘာလ ၂၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စီးတီးမင်း ကုမ္ပဏီလီမိတက် ( City Man Co., Ltd.) ၏ ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ တစ်ဆင့် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စီးတီးမင်းကုမ္ပဏီလီမိတက်(City Man Co., Ltd.) မှ အကွက်အမှတ် ၆၂၇၊ ၇၇ နှင့် ၇၈ လမ်းကြား၊ ၃၁ နှင့် ၃၂ လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးတွင် တော်ဝင်နှင်းဆီဆေးရုံ အမည်ဖြင့် ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ တစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် စီးတီးမင်းကုမ္ပဏီလီမိတက် တို့ ချုပ်ဆိုထားသည့် တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းစာချုပ်၊ ၎င်းအား ပြင်ဆင့်သည့်စာချုပ်၊ မြေငှားစာချုပ်၊ ပထမအကြိမ် ပြင်ဆင်သည့် မြေငှားစာချုပ် ၊ ဒုတိယအကြိမ် ပြင်ဆင်သည့် မြေငှားစာချုပ် (မူကြမ်း)၊ စီးတီးမင်းကုမ္ပဏီ၏ ကုမ္ပဏီမှတ်ပုံတင်ကဒ်နှင့် MOA၊ AOA တို့ကို တင်ပြထားပါသည်။

၃။ ဒုတိယအကြိမ်ပြင်ဆင်စာချုပ်တွင် အကောင်အထည်ဖော်ဆောင်ရွက်မည့် တည်ဆောက်မှုလုပ်ငန်းများအနက်မှ (၅) ထပ်ပလာဇာ(၆) လုံးအစား (၅) ထပ် ပလာဇာ(၅) လုံးနှင့် (၇) ထပ်ပုဂ္ဂလိကဆေးရုံ(၁)လုံးဟု ပြင်ဆင်ရန် လိုအပ်သဖြင့် ဒုတိယအကြိမ်ပြင်ဆင်သည့် သဘောတူစာချုပ်ကို ချုပ်ဆိုကြခြင်းဖြစ်ပြီး အထပ်(၇) ထပ်ရှိ ဆေးရုံတည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သန်းပေါင်း (၆,၀၀၀) အကုန်ကျခံ၍ ရင်းနှီးမြှုပ်နှံပြီး တည်ဆောက်မည်ပြီး ပလာဇာ၊ Super Market & Office၊ Condominium လုပ်ငန်းနှင့် ပုဂ္ဂလိက ဆေးရုံလုပ်ငန်းများအတွက် နှစ်စဉ်ငှားရမ်းခကို တစ်စတုရန်းမီတာလျှင် ၆၀၀/- နှုန်း ၊ အမေရိကန်ဒေါ်လာဖြင့် ငှားရမ်းပါက ၆ ဒေါ်လာ ကို လည်ကောင်း ပေးသွင်းရမည်ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ သက်တမ်းကာလမှာ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် စီးတီးမင်းကုမ္ပဏီတို့ ချုပ်ဆိုသည့် မြေငှားစာချုပ် သက်တမ်းအရ ၁၀ နှစ် ကျန်ရှိပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၆,၀၀၀.၀၀ သန်း ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်မည့်အမျိုးအစား | စုစုပေါင်း ကျပ်(သန်း) |
|---|---|
| ငွေပမာဏ | ၁,၀၀၀.၀၀ |
| စက်ပစ္စည်းကိရိယာတန်ဖိုးပမာဏ(ပြည်တွင်း) | ၂,၀၀၀.၀၀ |
| အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ် | ၂,၀၀၀.၀၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးတန်ဖိုးပမာဏ(ပြည်တွင်း) | ၁,၀၀၀.၀၀ |
| **စုစုပေါင်း** | **၆,၀၀၀.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း (၁၅၅)ဦး နှင့် ခန့်ထားမည် ဖြစ်ပြီး ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၈၀,၀၀၀ ဖြစ်ပြီး နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှာ ကျန်းမာရေးဆိုင်ရာ စစ်ဆေးမှုများ ပြုလုပ်ပေးခြင်း၊ ကျွမ်းကျင်ဝန်ထမ်းများဖြင့် ရောဂါရှာဖွေခြင်း၊ လိုအပ်သော ဆေးဝါးကုသမှုပေးခြင်း စသည့် ပုဂ္ဂလိကဆေးရုံ ဝန်ဆောင်မှု လုပ်ငန်းနှင့် ကျန်းမာရေးဆိုင်ရာ ဝန်ဆောင်မှု လုပ်ငန်းများ ကို ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား **နောက်ဆက်တွဲ-က** ဖြင့်လည်းကောင်း ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား **နောက်ဆက်တွဲ-ခ** ဖြင့် တင်ပြထားပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် U Tin Maung (a) Lee San Shin အမည်ဖြင့် Myanmar Apex Bank ၌ (၂၄-၄-၂၀၁၇) ရက်စွဲဖြင့် ကျပ်ငွေ ၄၂၂,၃၉၂,၈၈၉.၀၅ ရှိကြောင်း အထောက်အထား၊ ပတ်ဝန်းကျင် ထိန်းသိမ်းမှုဆောင်ရွက်မည့် အစီအစဉ် နှင့် အလုပ်သမားများ၏ လူမှုဖူလုံရေး သက်သာချောင်ချိ ရေးစီမံချက်များ တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းအား ၂၀၁၇ ခုနှစ် စက်တင်ဘာ လ ၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြု ချက် စိစစ်ရေးအဖွဲ့၏ (၂၂/၂၀၁၇ ) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ပုဂ္ဂလိကကျန်းမာရေးဝန်ဆောင်မှုလုပ်ငန်းသည် ၂၀၁၇ ခုနှစ် ဧပြီလ လ ၁၀ ရက်နေ့ တွင် ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန၏ အတည်ပြုချက်ရယူ ဆောင်ရွက်ရမည့် လုပ်ငန်းဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် ထုတ်ပြန်သော အမိန့် ကြော်ငြာစာအမှတ် ၁၃/၂၀၁၇ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်အတွက် အကျုံးဝင်သည့် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၂၂ ရက်နေ့တွင် ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ် ၁၀/၂၀၁၇

အရ ဇုန်အမျိုးအစား သတ်မှတ်ရာတွင် ဇုန်(၃) ဖွံ့ဖြိုးမှုရှိသောဒေသတွင် ပါဝင်သဖြင့် ဝင်ငွေခွန်(၃) နှစ် ခံစားခွင့်ရှိမည်ဖြစ်ပါသည်။

(ဂ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါ က ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းလိုင်စင် သက်တမ်းတိုးရန် လိုအပ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၈ ရက်နေ့တွင် ထုတ်ပြန်ထားသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆(ဃ) နှင့် (ဂ) တွင် ပါဝင်ပါသဖြင့် ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စီးတီးမင်းကုမ္ပဏီလီမိတက်၏ ဟိုတယ်၊ ပလာဇာ၊ ရုံးခန်း၊ ဈေးဆိုင်ခန်း၊ ကွန်ဒိုမီနီယံ တည်ဆောက်ခြင်း၊ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ခွင့်ပြုမိန့်အမှတ် မနသ- ၀၂၁/၉၆ (၂၉-၅-၉၆) ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။

(စ) ပလာဇာ(၆) လုံးရှိသည့်အနက် (၁) လုံးကို အထပ်(၇) ထပ်ပါ ဆေးရုံဆောက်လုပ်ခဲ့ခြင်းဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စီးတီးမင်း ကုမ္ပဏီလီမိတက် ( City Man Co., Ltd.)၏ ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ တစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ- က




ရင်းနှီးမြှုပ်နှံမှုဥာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁(၁၆၈/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် စက်တင်ဘာလ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **City Man Co., Ltd. မှ တော်ဝင်နှင်းဆီ ဆေးရုံအမည်ဖြင့် ပုဂ္ဂလိကကျန်းမာရေး လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၉-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက- ၅/ ခ-၀၀၆/၂၀၁၇ (၄၁၈)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စီတီးမင်းကုမ္ပဏီလီမိတက် (City Man Co., Ltd.) မှ မန္တလေး တိုင်းဒေသကြီးတွင် အကွက်အမှတ်- ၆၂၇၊ ၇၇ နှင့် ၇၈ လမ်းကြား၊ ၃၁ နှင့် ၃၂ လမ်းကြား၊ ချမ်းအေးသာစံ မြို့နယ်ရှိ မြန်မာ့မီးရထားပိုင်မြေ ၁၂.၁၈၈၁ ဧက (၄၉,၃၂၃.၄၉ စတုရန်းမီတာ) ပေါ်တွင်တည်ဆောက်ထား သည့် (၁၇၀x၅၈) ပေအကျယ်ရှိ (၇) ထပ်အဆောက်အဦအားတော်ဝင်နှင်းဆီဆေးရုံအမည်ဖြင့်ပုဂ္ဂလိက ကျန်းမာရေး ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါ ရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အ ကြောင်းကြားလာပါသည်။

၂။ အဆိုပါ စုံစမ်းမေးမြန်းလာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင်အောက်ပါအ ချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ သက် တမ်းတိုး (၅) နှစ် (၃) ကြိမ်ဆောင်ရွက်မည်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား ၄၉,၃၂၃.၄၉ စတုရန်းမီတာပေါ်ရှိ (၁၇၀x၅၈) ပေအကျယ် (၇) ထပ် အဆောက်အဦတွင်ကုတင် (၁၀၀) ဆံ့ခေတ်မီဆေးရုံနှင့် ရောဂါရှာဖွေစမ်းသပ်ရေး လုပ်ငန်း များလုပ်ကိုင် ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) မီးဘေး ကြိုတင်ကာကွယ်ရေးစီမံချက်၊ အရေးပေါ် ဘေးအန္တရာယ်စီမံခန့်ခွဲရေး အစီအစဉ်၊ အရေးပေါ် ကယ်ဆယ်ရေးအစီအစဉ်၊ လုံခြုံရေးအစီအစဉ်နှင့် ဝန်ထမ်းသက်သာချောင်ချိ ရေးအစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့်အမြတ်ငွေ၏ (၂%) ခန့်ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင် ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင် ထိခိုက်မှုမရှိစေရန် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ရေးဆွဲတင်ပြထားပြီး စွန့်ပစ်ရေသန့် စင်မည့်စနစ်ဖော်ပြပါရှိကာ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန မှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ လိုက်နာဆောင်ရွက် သွားမည်ဖြစ်ပြီး လိုအပ်သော ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ်များကို ဆောင်ရွက် သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) City Man Co., Ltd. မှ တော်ဝင်နှင်းဆီ ဆေးရုံအမည်ဖြင့် ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်း ဆောင်ရွက်ရာတွင် တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသားအမှုန်အမွှားများ၊ ဖုန်မှုန့်များကြောင့် ပတ်ဝန်းကျင် လေထုနှင့် မြေထု ညစ်ညမ်းခြင်း၊

(ခ) လုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ စွန့်ပစ်အမဲဆီ၊ အင်ဂျင်ဝိုင်နှင့် ဖိတ်စင်စက်သုံးဆီများ၊ ဆူညံသံများနှင့် အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်း၊ မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဂ) ဆေးရုံလုပ်ငန်းများဆောင်ရွက်ချိန်တွင် ထွက်ရှိလာမည့် ဆေးရုံသုံးဘေးအန္တရာယ်ရှိ စွန့်ပစ် ဆေးပစ္စည်းများ၊ ဓာတုဗေဒပိုးသတ်ဆေးရည်များ၊ ခွဲစိတ်ပြီး စွန့်ပစ်မည့် လူ့ခန္ဓာကိုယ် အစိတ်အပိုင်းများ၊ ကူးစက်ရောဂါဖြစ်စေသော စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်းနှင့်အနီးပတ်ဝန်းကျင်ရှိ ပြည်သူလူထုအားကူးစက်ရောဂါနှင့်ဘေးအန္တရာယ် များဖြစ်ပွားစေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်နှင့် ကျန်းမာရေးဆိုင်ရာ ပြဿနာများဖြစ်ပေါ် လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ City Man Co., Ltd. မှ တော်ဝင်နှင်းဆီဆေးရုံအမည်ဖြင့် ပုဂ္ဂလိကကျန်းမာရေးလုပ် ငန်းလုပ်ကိုင် ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ် ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေ မည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီအဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသောနယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဈ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင်နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ- ခ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၁၂မခ(က)၂၀၁၇(၃၄၅၉)/ ၁၆၁၈၅

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ စက်တင်ဘာလ(၂၁)ရက်




မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းအပေါ် ညှိနှိုင်းပြန်ကြားခြင်း။

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈-၉-၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ခ-၀၀၆/၂၀၁၇(၄၁၉)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စီးတီးမင်းကုမ္ပဏီလီမိတက်(City Man Co., Ltd)မှ အကွက်အမှတ် (၆၂၇)၊ ၇၇ နှင့် ၇၈ လမ်းကြား၊ ၃၁ နှင့် ၃၂ လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးတွင် တော်ဝင်နှင်းဆီဆေးရုံအမည်ဖြင့် ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက် ညှိနှိုင်းတောင်းခံခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၊ ကုသရေးဦးစီးဌာနမှ စိစစ်ချက်အရ အဆိုပါမြေနေရာရှိ အဆောက်အဦတွင် တော်ဝင်နှင်းဆီဆေးရုံဖွင့်လှစ်ခွင့်အား ပုဂ္ဂလိက ကျန်းမာရေးဌာနခွဲမှ (၂၀-၈-၂၀၁၃)ရက်နေ့တွင် လိုင်စင်အမှတ်၊ ပဂက/ထွေဆရ/၁၀/၁၁ ဖြင့် ခွင့်ပြုခဲ့ပါသည်။ (၂၀၁၅)ခုနှစ်တွင် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ စာချုပ်ပါ သဇင်ပလာဇာ(၃) အစားဆေးရုံဖွင့်လှစ်ခဲ့မှု၊ (၅)ထပ် အစား (၂)ထပ်တိုး (၇)ထပ် အဆောက်အဦဆောက်လုပ်မှု၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်လိုအပ်မှုနှင့် မြန်မာနိုင်ငံဆေးကောင်စီ၏ ကန့်သတ်ဆေးကုသခွင့်လိုင်စင်မရှိသော တရုတ်နိုင်ငံသား ဆရာဝန်များနှင့်အတူ လုပ်ငန်းဆောင်ရွက်နေကြောင်း စိစစ်တွေ့ရှိပါသဖြင့် (၁၉-၁-၂၀၁၅)ရက်နေ့မှစတင်ပြီး ပုဂ္ဂလိက ကျန်းမာရေးလုပ်ငန်းလိုင်စင်အား (၁)နှစ်တိတိ ရပ်ဆိုင်းခဲ့ပါသည်။

၃။ ယခုအခါ တော်ဝင်နှင်းဆီဆေးရုံမှ အမှုအခင်းကင်းရှင်းကြောင်းနှင့် ပုဂ္ဂလိက ကျန်းမာရေးလုပ်ငန်းလိုင်စင် သက်တမ်းတိုးရန် ရန်ကုန်တိုင်းဒေသကြီး ပုဂ္ဂလိက ကျန်းမာရေးလုပ်ငန်းဆိုင်ရာ ကြီးကြပ်ရေးကော်မတီမှတစ်ဆင့် လျှောက်ထားလာခြင်း၊ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၏ (၁၃-၉-၂၀၁၇)

ရက်စွဲပါစာအမှတ်၊ ၂/၄-၇/၃ ဦး ဖ (၁၇၇၇)ဖြင့် "ဥပဒေနှင့်အညီ ဖြစ်လျှင် ကန့်ကွက်ရန်မရှိပါ" သဘောထားမှတ်ချက်ပြုထားကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာနအနေဖြင့် ပုဂ္ဂလိကလုပ်ငန်းဆိုင်ရာ ဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်းနှင့် မြန်မာနိုင်ငံဆေးကောင်စီ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက်အား ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ပါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

ညွှန်ကြားရေးမှူးချုပ်၊ ကုသရေးဦးစီးဌာန

စီးတီးမင်းကုမ္ပဏီလီမိတက်(City Man Co.,Ltd)